အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune Broadcasting Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Fortune TV Channel Production and Broadcasting ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Fortune Broadcasting Co., Ltd.<br>- ဦးမြဟန်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- Fortune TV Channel Production and Broadcasting လုပ်ငန်း |
| ၂။ | တည်နေရာ | - တိုက်အမှတ်-၁၄၊ MICT Park၊ တက္ကသိုလ်များလှိုင်နယ်မြေ၊ ၁၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/တိုက်ခန်းပိုင်ရှင်<br>မြေ/တိုက်ခန်း<br>အကျယ်အဝန်း<br><br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးမြဟန်<br><br>- အလျား ၁၄၄ ပေ × အနံ ၆၀ ပေ စီရှိ မြေညီထပ်နှင့် ပထမထပ် (စုစုပေါင်းဧရိယာ ၁၇,၂၈၀ စတုရန်းပေ)<br><br>- -<br><br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၅,၁၈၂.၀၀သန်း (အမေရိကန်ဒေါ်လာ ၀.၉၇ သန်း အပါအဝင်) |

| **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေသား | ၃,၂၂၂.၂၆ | - | ၃,၂၂၂.၂၆ |
| စက်ပစ္စည်းကိရိယာ | ၁၆.၂၇ | ၀.၉၇ | ၁,၂၇၈.၂၁ |
| ရုံးသုံးပစ္စည်း | ၁၂၄.၅၃ | - | ၁၂၄.၅၃ |
| မော်တော်ကား | ၄၉၀.၀၀ | - | ၄၉၀.၀၀ |
| အဆောက်အဦပြင်ဆင်စရိတ် | ၇၇.၀၀ | - | ၇၇.၀၀ |
| **စုစုပေါင်း** | **၃,၉၃၀.၀၆** | **၀.၉၇** | **၅,၁၈၂.၀၀** |

| | | စဉ် | အမျိုးအမည် | ပမာဏ | အရေအတွက် | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | (က) | TVC Loop sport | min | ၁,၈၀၀ | ၉၀၀,၀၀၀ |
| | | (ခ) | Event & Program Sponsor | unit | ၄ | ၅၀,၀၀၀,၀၀၀ |
| | | (ဂ) | Cooperate | unit | ၄ | ၂၀,၀၀၀,၀၀၀ |
| | | (ဃ) | Live Concert | unit | ၅ | ၂၀,၀၀၀,၀၀၀ |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** ၂၀၁ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၂,၀၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၃၀၀,၀၀၀ |
| ၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် KBZ Bank (MICT Park) ဘဏ်ခွဲတွင် Fortune Broadcasting Co., Ltd. အမည်ဖြင့် ၂၅-၆-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၈၀,၁၁၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက် | - Fortune Broadcasting Co., Ltd. ၏ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းနှင့် လုပ်ငန်းဆောင်ရွက်မည့် နေရာအတွက် Layout Plan တို့အား တင်ပြထားပါသည်။<br>- တိုက်ခန်းပိုင်ရှင် ဒေါ်ခင်စောဝေနှင့် မန်းနေဂျင်းဒါရိုက်တာ ဦးမြဟန် တို့ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် ချုပ်ဆိုထားသည့် တိုက်ခန်းပေးကမ်းခြင်းစာချုပ် တင်ပြထားပါသည်။<br>- အဆိုပါလုပ်ငန်း ဆောင်ရွက်ခွင့်အား ၃၀-၁-၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂/၂၀၁၈) မှ သဘောတူခွင့်ပြုခဲ့သဖြင့် မြန်မာ့အသံနှင့် ရုပ်မြင်သံကြားနှင့် Fortune Broadcasting Co., Ltd. တို့ အကြား Multi Channel Playout System တွင် Digital Free to Air စနစ်ဖြင့် ရုပ်သံလိုင်း (၁) လိုင်းအား Content Provider အဖြစ် ထုတ်လွှင့်ဆောင်ရွက်နိုင်ရန် ချုပ်ဆိုခဲ့သည့်လုပ်ငန်းသဘောတူစာချုပ် တင်ပြထား ပါသည်။<br>- ကုမ္ပဏီသည် ရန်ကုန်မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်း ရုပ်သံထုတ်လုပ်ရေး စတူဒီယို (၁) လုံး တည်ဆောက်ပြီး ရုပ်သံအစီအစဉ်များကို စတူဒီယိုမှ Fiber သို့မဟုတ် အခြားဆက်ကြောင်းဖြင့် |

| | | |
|---|---|---|
| | | မြန်မာ့အသံနှင့်ရုပ်မြင်သံကြား (ရန်ကုန်) 9 Meter Earth Station သို့ လည်းကောင်း၊ ၎င်းမှတစ်ဆင့် ဂြိုလ်တုဆက်ကြောင်းဖြင့် မြန်မာ့အသံနှင့်ရုပ်မြင်သံကြား (တပ်ကုန်း) သို့ ထပ်ဆင့်ပေးပို့ပြီး မြန်မာနိုင်ငံတစ်ဝှမ်းရှိ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားပိုင် ရုပ်သံထပ်ဆင့်ဖြန့်ဖြူး ထုတ်လွှင့်ခြင်းစနစ်အား အသုံးပြု၍ ကုမ္ပဏီ၏ ရုပ်သံအစီအစဉ်များအား ထုတ်လွှင့်ပြသမည်ဖြစ်ပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အလုပ်သမားများအတွက် လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေးဆောင်ရွက်မည့် အစီအစဉ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။<br>- အတည်ပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ချုပ်ဆိုခဲ့သောစာချုပ်ပါ စည်းကမ်း၊ စည်းမျဉ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည် ဖြစ်ပြီး Channel Production နှင့် Broadcasting လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၃၃/ ၂၀၁၈(၃၀၃ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာ လ ၁ ၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune Broadcasting Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Fortune TV Channel Production and Broadcasting ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune Broadcasting Co., Ltd. မှ တိုက်အမှတ်-၁၄၊ MICT Park၊ တက္ကသိုလ်များလှိုင်နယ်မြေ၊ ၁၂ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Fortune TV Channel Production and Broadcasting လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Fortune Broadcasting Co., Ltd. ၏ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာအတွက် Layout Plan နှင့် တိုက်ခန်းပိုင်ရှင် ဒေါ်ခင်စောဝေနှင့် မန်းနေဂျင်းဒါရိုက်တာ ဦးမြဟန်တို့ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် ချုပ်ဆိုထားသည့် တိုက်ခန်းပေးကမ်းခြင်းစာချုပ်တို့အား တင်ပြထားပါသည်။

၃။ အဆိုပါလုပ်ငန်း ဆောင်ရွက်ခွင့်အား ၃၀-၁-၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂/၂၀၁၈) မှ သဘောတူခွင့်ပြုခဲ့သဖြင့် မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် Fortune Broadcasting Co., Ltd. တို့အကြား မြန်မာ့အသံနှင့်ရုပ်မြင်သံကြား၏ Multi Channel Playout System တွင် Digital Free to Air စနစ်ဖြင့် ရုပ်သံလိုင်း (၁) လိုင်းအား Content Provider အဖြစ် ထုတ်လွှင့်ဆောင်ရွက်နိုင်ရန် ခွင့်ပြုခဲ့သည့် လုပ်ငန်းသဘောတူစာချုပ် တင်ပြထားပါသည်။

၄။ အတည်ပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၉၇ သန်း အပါအဝင် ကျပ် ၅,၁၉၂.၀၀ သန်း ဖြစ်ပြီး မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၃,၂၂၂.၂၆ | - | ၃,၂၂၂.၂၆ |
| စက်ပစ္စည်းကိရိယာ | ၁၆.၂၇ | ၀.၉၇ | ၁,၂၇၈.၂၀ |
| ရုံးသုံးပစ္စည်း | ၁၂၄.၅၃ | - | ၁၂၄.၅၃ |
| မော်တော်ကား | ၄၉၀.၀၀ | - | ၄၉၀.၀၀ |
| အဆောက်အဦပြင်ဆင်စားရိတ် | ၇၇.၀၀ | - | ၇၇.၀၀ |
| **စုစုပေါင်း** | **၃,၉၃၀.၀၆** | **၀.၉၇** | **၅,၁၉၂.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၀၁ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၇။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် အစီအစဉ်များနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ယူနစ် | အရေအတွက် | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | TVC Loop sport | min | ၁,၈၀၀ | ၉၀၀,၀၀၀ |
| (ခ) | Event & Program Sponsor | unit | ၄ | ၅၀,၀၀၀,၀၀၀ |
| (ဂ) | Cooperate | unit | ၄ | ၂၀,၀၀၀,၀၀၀ |
| (ဃ) | Live Concert | unit | ၅ | ၂၀,၀၀၀,၀၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ချုပ်ဆိုခဲ့သောစာချုပ်ပါ စည်းကမ်း၊ စည်းမျဉ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်ဖြစ်ပြီး Channel Production နှင့် Broadcasting လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ)**

၉။ အတည်ပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၀၁ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၃၀၀,၀၀၀ ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၁၀။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank (MICT Park) ဘဏ်ခွဲတွင် Fortune Broadcasting Co., Ltd. အမည်ဖြင့် ၂၅-၆-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၈၀,၁၁၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါ က သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များလျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(ဃ) ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Canal + Myanmar Limited အား Commercialization and Marketing of Pay TV Services and Pay V Consumer Services လုပ်ငန်းကို ခွင့်ပြုမိန့်အမှတ် ဝ၅၃/၂ဝ၁၈ (၂ဝ-၁-၂ဝ၁၈) ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune Broadcasting Co., Ltd. မှ Fortune TV Channel Production and Broadcasting လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ပြန်ကြားရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး

စာအမှတ် ၊ ၃ - ၁၀( ၄ / ၂၀၁၈ ) / ၉၄၀
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၈-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/အ-၀၃၃/ ၂၀၁၈(၂၇၉)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune Broadcasting Co.,Ltd. က တိုက်အမှတ် - ၁၄၊ MICT Park ၊ တက္ကသိုလ်များ လှိုင်နယ်မြေ၊ ၁၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Fortune TV Channel Production and Broadcasting လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ သဘောထား မှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာနသည် ရုပ်မြင်သံကြားနှင့်အသံထုတ်လွှင့် ခြင်းဆိုင်ရာဥပဒေကို ပြန်လည်ပြင်ဆင် သုံးသပ်ရေးဆွဲနိုင်ရေး ဆောင်ရွက်နေသည့် ကာလအတွင်း ပြည်တွင်းမီဒီယာကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရေးအတွက် မြန်မာ့အသံနှင့်ရုပ်မြင်သံကြား၏ Multi Channel Playout System ၏ DVB-T2 စနစ်ဖြင့် ထုတ်လွှင့်နေသော ရုပ်သံလိုင်းများအနက် ထပ်မံဆောင်ရွက်နိုင်သည့် ရုပ်သံလိုင်း(၅)လိုင်းတွင် ပုဂ္ဂလိကမီဒီယာလုပ်ငန်း ဆောင်ရွက်လိုသူများက Digital Free to Air စနစ်ဖြင့် Content Provider များအဖြစ် ထပ်မံထည့်သွင်းပြသနိုင်ရန် ဆောင်ရွက်ခဲ့ ပါသည်။

၃။ ပုဂ္ဂလိကမီဒီယာ Content Provider များအား Digital Free to Air စနစ်ဖြင့် ရုပ်သံလိုင်း (၅)လိုင်းတွင် လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ပွင့်လင်းမြင်သာစွာ ရွေးချယ်ဆောင်ရွက်ခဲ့ရာ " လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" အဖြစ် ကုမ္ပဏီ/ အဖွဲ့အစည်း(၅)ခုအား ရွေးချယ်ခဲ့ပြီး ၃၀-၁-၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂/ ၂၀၁၈) က သဘောတူခွင့်ပြုခဲ့ပါသည်။ ယင်းတို့တွင် Fortune Broadcasting Co.,Ltd သည် လုပ်ငန်း ဆောင်ရွက်ခွင့်ရရှိသည့် ကုမ္ပဏီတစ်ခုအဖြစ် ပါဝင်ပါသည်။ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် Fontune Broadcasting Co., Ltd တို့အကြား MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် ရုပ်သံလိုင်း (၁) လိုင်း ထည့်သွင်းထုတ်လွှင့်သည့် လုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ခြင်း

သဘောတူစာချုပ်ကို ၁၇-၂-၂၀၁၈ ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ စာချုပ်အရ Fontune TV အဖြစ် မြန်မာ့အသံနှင့်ရုပ်မြင်သံကြား၏ MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် Free to Air Channal အဖြစ် ထုတ်လွှင့်ခွင့်ရရှိပြီးဖြစ်ရာ Channel လိုင်းသစ် ထုတ်လွှင့်နိုင်ရန် စီစဉ်ဆောင်ရွက်လျက်ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ Fontune Broadcasting Co., Ltd သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fortune TV Channel Production and Broadcasting လုပ်ငန်းကို ဆောင်ရွက်ရာတွင် ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ချုပ်ဆိုခဲ့သော စာချုပ်ပါစည်းကမ်း၊ စည်းမျဉ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်ဖြစ်ပြီး Channel Production နှင့် Broadcasting လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးမြင့်မောင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြား